## Southern Myanmar Development Company Limited မှ တင်ပြသည့် အဆိုပြုလွှာနှင့် စပ်လျဉ်း၍ လုပ်ငန်းဆောင်ရွက်မှုမှတ်တမ်း

ရေသတ္တဝါမွေးမြူခြင်း၊ ပြုပြင်ထုတ်လုပ်ခြင်း၊ အေးခဲခြင်း၊ ရေထွက်ပစ္စည်း ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်း (aqua farming, processing, cold storage and sales of marine products)

| စဉ် | ဆောင်ရွက်သည့် အကြောင်း အရာ | ဆောင်ရွက်သည့် ရက်စွဲ | အကြောင်းပြန်ကြားသည့် ရက်စွဲ/ ကုမ္ပဏီမှ တင်ပြသည့် ရက်စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | အဆိုပြုချက်တင်ပြလာခြင်း | | ၂-၇-၂၀၁၉ | |
| ၂ | လုပ်ငန်း လိုအပ်ချက်အရ သက်ဆိုင်ရာ ဝန်ကြီးဌာန များသို့ သဘောထား တောင်းခံခြင်း | | | |
| | - ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဦးစီးဌာန (One Stop Service) | ၂-၈-၂၀၁၉ | ၈-၈-၂၀၁၉ | |
| | - စိုက်ပျိုးရေး၊မွေးမြူရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန | ၃-၈-၂၀၁၉ | ၂၂-၈-၂၀၁၉ | |
| | - ပို့ဆောင်ရေးနှင့်ဆက်သွယ်ရေး ဝန်ကြီးဌာန | ၃-၈-၂၀၁၉ | ၂၂-၈-၂၀၁၉ | |
| | - စက်မှုဝန်ကြီးဌာန | ၃-၈-၂၀၁၉ | ၂၃-၈-၂၀၁၉ | |
| | - မွန်ပြည်နယ်အစိုးရအဖွဲ့ရုံး | ၃-၈-၂၀၁၉ | ၂၉-၈-၂၀၁၉ | (၅-၉-၂၀၁၉)ရက်နေ့တွင် သဘောထား ရရှိပါသည်။ |
| ၄ | အဆိုပြုချက်စိစစ်ရေးအဖွဲ့ အစည်းအဝေးသို့ တင်ပြခြင်း | ၂၃/၂၀၁၉ (၈-၇-၂၀၁၉) | | |
| ၅ | အဆိုပြုချက်အားလက်ခံကြောင်း ပြန်ကြားခြင်း | ၁၁-၇-၂၀၁၉ | | |
| ၆ | အဆိုပြုချက်အပေါ် ပြင်ဆင်တင်ပြရမည့်အချက်များ အကြောင်းကြားခြင်း | ၁၇-၇-၂၀၁၉ | ၃၀-၇-၂၀၁၉ | |

| | | | | |
|---|---|---|---|---|
| ၇ | အဆိုပြုချက် ပြန်လည်ပေးပို့ခြင်း | ၃-၉-၂၀၁၉ | | အဆိုပြုချက်သည် ရက်ပေါင်း ၆၀ ကျော်လွန်နေခြင်းနှင့်မွန်ပြည်နယ်အစိုးရအဖွဲ့မှ သဘောထား ပြန်ကြားလာခြင်း မရှိသေးပါသောကြောင့် အဆိုပြုချက်အား ပြန်လည် ပေးပို့ခဲ့ပါသည်။ |
| | စုစုပေါင်းကြာမြင့်ရက် | ၆၁ ရက် | | |
| ၈ | ကုမ္ပဏီမှ မွန်ပြည်နယ် သဘောထား မှတ်ချက် ပြန်ကြားလာပါသဖြင့် အဆိုပြုချက်အား ပြန်လည် တင်ပြလာခြင်း | - | ၆-၉-၂၀၁၉ | |
| ၉ | အဆိုပြုချက်အား ကော်မရှင် အစည်းအဝေးသို့ တင်ပြခြင်း | ၁၅/၂၀၁၉ (၁၄-၉-၂၀၁၉) | | |
| | စုစုပေါင်းကြာမြင့်ရက် | (၉) ရက် | | |

# အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ဆွေးနွေးချက်၊ ဆုံးဖြတ်ချက်အပေါ် ဆောင်ရွက်ပြီးစီးမှု

| | |
|---|---|
| ကုမ္ပဏီအမည် | Southern Myanmar Development Company Limited |
| လုပ်ငန်းအမျိုးအစား | ရေသတ္တဝါမွေးမြူခြင်း၊ ပြုပြင်ထုတ်လုပ်ခြင်း၊ အေးခဲခြင်း၊ ရေထွက်ပစ္စည်း ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်း (aqua farming, processing, cold storage and sales of marine products) |
| PATအကြိမ်/နေ့စွဲ | ၂၃/၂၀၁၉ (၈-၇-၂၀၁၉) |

| စဉ် | အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ဆုံးဖြတ်ချက်အပေါ် ပြင်ဆင်ရန် အချက်များ | ဆောင်ရွက်ပြီးစီးမှု ပြီး(✔) မပြီး(x) | မှတ်ချက် |
|---|---|---|---|
| ၁ | လယ်ယာမြေ အခြားနည်း အသုံးပြုခွင့် အထောက်အထား တင်ပြရန်။ | | |
| ၂ | လျှပ်စစ်သုံးစွဲမှုအား kWh ဖြင့် ဖော်ပြရန်။ | ✔ | |
| ၃ | လုပ်ငန်းအမျိုးအစား ပြင်ဆင် တင်ပြရန်။ | ✔ | |
| ၄ | မြေငှားရမ်းစာချုပ်အား အင်္ဂလိပ်ဘာသာဖြင့် တင်ပြပေးရန်။ | ✔ | |
| ၅ | ထုတ်လုပ်မှုနှင့် ရောင်းဈေးနှုန်းများတွင် ထုတ်လုပ်မည့် ပုစွန် အမျိုးအစားများအား ဖော်ပြပေးရန်။ | ✔ | |

အကြောင်းအရာ။ **ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Southern Myanmar Development Company Limited မှ ရေသတ္တဝါ မွေးမြူခြင်း၊ ပြုပြင်ထုတ်လုပ်ခြင်း၊ အေးခဲခြင်း၊ ရေထွက်ပစ္စည်း ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်းအား ဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းကိစ္စ**

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/ | - Southern Myanmar Development Company Limited |
| | ရင်းနှီးမြှုပ်နှံသူ | - U Sein Wan (Myanmar) |
| | ရင်းနှီးမြှုပ်နှံမှုပုံသဏ္ဍာန် | - ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု<br>Bedok Construction & Engineering Company Limited (Myanmar) ၃၄%<br>Asiatech Power Pte., Ltd. (Singapore) ၃၃%<br>Siam Gas Power Pte., Ltd. (Singapore) ၃၃% |
| | လုပ်ငန်းအမျိုးအစား | - ရေသတ္တဝါမွေးမြူခြင်း၊ ပြုပြင်ထုတ်လုပ်ခြင်း၊ အေးခဲခြင်း၊ ရေထွက်ပစ္စည်း ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်း (aqua farming, processing, cold storage and sales of marine products) |
| ၂။ | တည်နေရာ | - ဦးပိုင်အမှတ်- (၁၊ ၃၊ ၄၊ ၆၊ ၇) ၊ ကွင်းအမှတ်- ၁၀၅၀ᵃ ၊ ထော်အောင်အနောက်ကွင်း၊ မေ့ကနင်ကျေးရွာအုပ်စု၊ လမိုင်းမြို့၊ ရေးမြို့နယ်၊ မော်လမြိုင်ခရိုင်၊ မွန်ပြည်နယ် |
| ၃။ | မြေပိုင်ရှင်/မြေအသုံးပြုခွင့်ရရှိသူ | - ဦးစိန်ဝမ်း |
| | မြေအကျယ်အဝန်း | - ဦးပိုင်အမှတ်(၁) ရှိ မြေ (၉၄.၈၃)ဧက<br>ဦးပိုင်အမှတ်(၃) ရှိ မြေ (၂၉.၈၅)ဧက<br>ဦးပိုင်အမှတ်(၄) ရှိ မြေ (၂.၃၈)ဧက<br>ဦးပိုင်အမှတ်(၆) ရှိ မြေ (၂၇၀.၇၃)ဧက<br>ဦးပိုင်အမှတ်(၇) ရှိ မြေ (၅၂.၈၃)ဧက<br>**စုစုပေါင်း မြေ (၄၅၀.၆၂)ဧက** |
| ၄။ | နှစ်စဉ် မြေငှားရမ်းခ | - တစ်ဧကလျှင် နှစ် ၅၀ အတွက် ငှားရမ်းခနှုန်း ကျပ် ၈,၀၀၀,၀၀၀<br>မြေ (၄၅၀.၆၂)ဧကလျှင် နှစ် ၅၀ အတွက် ငှားရမ်းခ ကျပ် ၃,၆၀၄,၉၆၀,၀၀၀<br>တစ်နှစ်လျှင် မြေငှားရမ်းခနှုန်း ကျပ် ၇၂,၀၉၉,၂၀၀ |

မြေငှားရမ်းအသုံးပြုခွင့်သက်တမ်း – ကနဦး ၅၀ နှစ် နှင့် သက်တမ်းတိုး ၁၀ နှစ် (၂) ကြိမ်

၅။ ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုသည့်သက်တမ်း - ၅၀ နှစ်

တည်ဆောက်မှုကာလ/ပြင်ဆင်မှုကာလ - ၆ နှစ်

၆။ စုစုပေါင်းမတည်ငွေရင်း ထည့်ဝင်သည့်အမျိုးအစား **– အမေရိကန်ဒေါ်လာ ၂၇.၀၀၀ သန်း (ချေးငွေ US$ ၁၉.၀၀၀ သန်း အပါအဝင် )**

| ထည့်ဝင်သည့် အမျိုးအစား | ပြည်ပ | | ပြည်တွင်း | | စုစုပေါင်း (US$ သန်း) |
|---|---|---|---|---|---|
| | ထည့်ဝင်ငွေ (US$ သန်း) | ချေးငွေ (US$ သန်း) | ထည့်ဝင်ငွေ (US$ သန်း) | ချေးငွေ (US$ သန်း) | |
| - ငွေသား | ၅.၂၈၀ | - | ၂.၅၈၂ | ၅.၆၃၃ | ၁၃.၄၉၅ |
| - စက်ပစ္စည်းများနှင့် စက်ကိရိယာများ | - | ၁၂.၅၄၀ | - | ၀.၈၂၇ | ၁၃.၃၆၇ |
| - မြေငှားရမ်းခ | - | | ၀.၀၄၈ | - | ၀.၀၄၈ |
| - ပရိဘောဂနှင့် လုပ်ငန်းသုံးပစ္စည်းများ | - | | ၀.၀၉၀ | - | ၀.၀၉၀ |
| စုစုပေါင်း | ၅.၂၈၀ | ၁၂.၅၄၀ | ၂.၇၂၀ | ၆.၄၆၀ | ၂၇.၀၀၀ |

၇။ ဝန်ထမ်းအင်အား - **၆၁၁ ဦး**

ပြည်တွင်း - ၅၉၁ ဦး (ပြည်တွင်း ဝန်ထမ်းတစ်ဦး၏အနိမ့်ဆုံးလစာမှာ ကျပ် ၂၀၀,၀၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ ကျပ် ၂,၀၀၀,၀၀၀ ဖြစ်ပါသည်။)

ပြည်ပ - ၂၀ ဦး (ပြည်ပ ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ် ၁,၅၀၀,၀၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ ကျပ် ၂,၂၀၀,၀၀၀ ဖြစ်ပါသည်။)

၈။ ရောင်းချမည့်စနစ် -ပြည်ပ ၅၀% နှင့် ပြည်တွင်း ၅၀%

ထုတ်လုပ်မှု (ပထမနှစ်)

| စဉ် | အမျိုးအစား | အရေအတွက် (kg) | | ရောင်းချမည့်ဈေးနှုန်း | |
|---|---|---|---|---|---|
| | | ပြည်ပ ၅၀% | ပြည်တွင်း ၅၀% | (US$/ kg) | (ကျပ်/kg) |
| (က) | Barramundi (Seabass) fish | ၁,၂၅၀,၀၀၀ | ၁,၂၅၀,၀၀၀ | ၃.၀၀၀ | ၄၃၀၀ |
| (ခ) | Giant tiger shrimp | ၅၀၀,၀၀၀ | ၅၀၀,၀၀၀ | ၆.၀၀၀ | ၈၄၀၀ |
| (ဂ) | Giant fresh water prawn | ၅၀၀,၀၀၀ | ၅၀၀,၀၀၀ | ၆.၀၀၀ | ၈၄၀၀ |

| | | |
|---|---|---|
| ၉။ | လျှပ်စစ်ဓါတ်အားသုံးစွဲမှု (နှစ်စဉ်) | - ၇၀,၀၀၀,၀၀၀ kWh |
| ၁၀။ | အခြားတင်ပြချက် | - မြေ အထောက်အထားအဖြစ် ဦးစိန်ဝမ်း အမည်ဖြင့် ရရှိထားသည့် လယ်ယာမြေပုံစံ (၇) နှင့် မြေစာရင်းပုံစံ- ၁၀၅ တင်ပြထားပါသည်။<br>- မွန်ပြည်နယ်အစိုးရအဖွဲ့မှ မြေပိုင်ရှင် ဦးစိန်ဝမ်းမှ လယ်ယာမြေအား အခြားနည်းအသုံးပြုခွင့် လျှောက်ထားဆောင်ရွက်လျက်ရှိသည်မှာ မှန်ကန်ကြောင်း ထောက်ခံချက်အား တင်ပြထားပါသည်။<br>- မြေပိုင်ရှင် ဦးစိန်ဝမ်း နှင့် Southern Myanmar Development Company Limited (ဦးကျော်ဖြိုးထွန်း) တို့အကြား ချုပ်ဆိုမည့် မြေငှား စာချုပ်(မူကြမ်း) နှင့် မြန်မာနိုင်ငံမှ Bedok Construction & Engineering Company Limited ၊ စင်ကာပူနိုင်ငံမှ Asiatech Power Pte., Ltd. နှင့် Siam Gas Power Pte., Ltd. တို့အကြား ချုပ်ဆိုထားသည့် Shareholders Agreement တို့ကိုလည်း တင်ပြထားပါသည်။<br>- လုပ်ငန်းသုံးယာဉ်ယန္တရားစာရင်းတွင် Backhoe (၁၀)စီး ၊ Bulldozer (၅)စီး ၊ Reefer Trucks (၁၀)စီး နှင့် Pickup Trucks (၁၀)စီး တင်သွင်းမည်ဖြစ်ကြောင်း တင်ပြထားပါသည်။<br>- ပြည်ပမှ Fishery Zone အတွက် US$ ၁,၄၇၂,၆၀၀.၀၀ ၊ Cold Storage Plant အတွက် US$ ၁,၀၈၈,၉၀၀.၀၀ ၊ Block Ice Plant အတွက် US$ ၁,၇၆၀,၇၀၀.၀၀ ၊ Aqua Feed Production Plant အတွက် ၆,၇၃၆,၁၉၁.၀၀ ၊ Electrical Equipment အတွက် US$ ၈၇၃,၅၀၁.၄၂ ၊ လုပ်ငန်းသုံးယာဉ် US$ ၁,၄၃၅,၀၀၀.၀၀ တင်သွင်းမည် ဖြစ်ကြောင်း စာရင်းများ တင်ပြထားပါသည်။<br>- ငွေရေးကြေးရေး အထောက်အထားအဖြစ် Southern Myanmar Development Company Limited အမည်ဖြင့် AGD Bank တွင် ၂၄-၄-၂၀၁၉ ရက်စွဲဖြင့် US$ ၃၃၇,၄၄၉.၇၃ ရှိကြောင်း တင်ပြထားပါသည်။ |

| | | |
|---|---|---|
| | | - ကုမ္ပဏီသည် ပြည်ပရှိ ဘဏ်တစ်ခုခုမှ ချေးငွေ အမေရိကန်ဒေါ်လာ ၁၉.၀၀၀ သန်းအား ချေးယူမည်ဖြစ်ပြီး အတိုးနှုန်းနှင့် ပြန်လည် ပေးဆပ်မည့် အစီအစဉ်အား တင်ပြထားပါသည်။<br>- လုပ်ငန်းခွင်သာယာရေးနှင့် ဝန်ထမ်းသက်သာချောင်ချိရေး အစီအစဉ်၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေး အစီအစဉ်၊ မီးဘေး ကြိုတင်ကာကွယ်ရေး စီမံချက်နှင့် CSR Project တို့ကို တင်ပြထားပါသည်။<br>- ကုမ္ပဏီမှ ငါးမွေးမြူရေးကန် (၁၀၀)ကေတွင် Barramadi (Seabass) နှင့် ပုစွန်မွေးမြူရေးကန် (၁၀၀)ကေတွင် Giant Tiger Shrimp နှင့် Giant Fresh Water Prawn များ မွေးမြူသွားမည်ဖြစ်ပြီး လုပ်ငန်းနှင့် ဆက်စပ်သော ငါးပြုပြင်ထုတ်လုပ်မှု အအေးခန်းစက်ရုံနှင့် အအေးခန်းသိုလှောင်ရုံ၊ ငါးဆိပ်ခံတံတား ၊ ငါးဈေးကွက်၊ ငါးအစာတောင့်စက်ရုံများ ဆောင်ရွက်မည်ဖြစ်ကြောင်း တင်ပြထားပါသည်။<br>- မွေးမြူမည့် ငါး၊ ပုဇွန်သားပေါက်များကို ဒေသတွင်း မျိုးပေါက်စခန်းများမှ ရယူသွားမည်ဖြစ်ကြောင်း တင်ပြထားပါသည်။<br>- လုပ်ငန်းသဘာဝ ရှင်းလင်းချက်၊ **Business Proposal Plan ၊ ထုတ်လုပ်မည့် ငါး၊ ပုဇွန် နမူနာပုံများနှင့် Layout Plan များ တင်ပြထားပါသည်။** |
| ၁၁။ | စိစစ်တင်ပြချက် | - အဆိုပြုလုပ်ငန်းသည် ဦးစားပေးမြှင့်တင်မည့် ရင်းနှီးမြှုပ်နှံမှုကဏ္ဍတွင် ပါဝင်ပြီး ISIC Code- 0321 ၊ 1020 တွင် အကျုံးဝင်ပါသည်။ |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

စာအမှတ်၊ မရက-၂/ခ-၀၄၆/၂၀၁၉( ၂၇၅ )
ရက်စွဲ ၊ ၂၀၁၉ ခုနှစ် စက်တင်ဘာလ ၉ ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့
တင်ပြသည့် အမှာစာ**

အကြောင်းအရာ။ **ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Southern Myanmar Development Company Limited မှ ရေသတ္တဝါ မွေးမြူခြင်း၊ ပြုပြင်ထုတ်လုပ်ခြင်း၊ အေးခဲခြင်း၊ ရေထွက်ပစ္စည်း ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်းအား ဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းကိစ္စ**

၁။ မြန်မာနိုင်ငံရှိ Bedok Construction & Engineering Company Limited မှ ၃၄% ၊ စင်္ကာပူနိုင်ငံရှိ Asiatech Power Pte., Ltd. မှ ၃၃% နှင့် Siam Gas Power Pte., Ltd. မှ ၃၃% အစုရှယ်ယာများ ထည့်ဝင်ကာ ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် Southern Myanmar Development Company Limited မှ ဦးပိုင်အမှတ်- (၁ ၊ ၃ ၊ ၄ ၊ ၆ ၊ ၇)၊ ကွင်းအမှတ်- (၁၀၅၀-ခ)၊ ထော်အောင်အနောက်ကွင်း၊ မော့ကနင်ကျေးရွာအုပ်စု၊ လမိုင်းမြို့၊ ရေးမြို့နယ်၊ မော်လမြိုင်ခရိုင်၊ မွန်ပြည်နယ်ရှိ မြေ (၄၅၀.၆၂)ကေအား ငှားရမ်း၍ ရေသတ္တဝါမွေးမြူခြင်း၊ ပြုပြင်ထုတ်လုပ်ခြင်း၊ အေးခဲခြင်း၊ ရေထွက်ပစ္စည်းထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်းအား ဆောင်ရွက်ခွင့် ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုချက် တင်ပြလာပါသည်။

၂။ မြေပိုင်ရှင် ဦးစိန်ဝမ်း နှင့် Southern Myanmar Development Company Limited (ဦးကျော်ဖြိုးထွန်း) **တို့အကြား ချုပ်ဆိုမည့် မြေငှားစာချုပ် (မူကြမ်း)**၊ မြန်မာနိုင်ငံမှ Bedok Construction & Engineering Company Limited ၊ စင်္ကာပူနိုင်ငံမှ Asiatech Power Pte., Ltd. နှင့် Siam Gas Power Pte., Ltd. တို့အကြား ချုပ်ဆိုထားသည့် Shareholders Agreement ၊ မြေပိုင်ရှင် စိန်ဝမ်း အမည်ဖြင့် အသုံးပြုခွင့် ရရှိထားသော လယ်ယာမြေပုံစံ(၇)နှင့် မြေစာရင်းပုံစံ- ၁၀၅ ၊ မွန်ပြည်နယ်အစိုးရအဖွဲ့မှ မြေပိုင်ရှင် ဦးစိန်ဝမ်းမှ လယ်ယာမြေအား အခြားနည်းအသုံးပြုခွင့် လျှောက်ထားဆောင်ရွက်လျက်ရှိသည်မှာ မှန်ကန်ကြောင်း ထောက်ခံချက်တို့ကို တင်ပြထားပါသည်။

၃။ မြေငှားသက်တမ်းမှာ ကနဦး ၅၀ နှစ် နှင့် သက်တမ်းတိုး ၁၀ နှစ် (၂)ကြိမ် ဖြစ်ပါသည်။ တစ်ကေလျှင် နှစ် ၅၀ အတွက် ငှားရမ်းခနှုန်း ကျပ် ၈,၀၀၀,၀၀၀ ၊ မြေ (၄၅၀.၆၂)ကေလျှင် နှစ် ၅၀ အတွက် ငှားရမ်းခ ကျပ် ၃,၆၀၄,၉၆၀,၀၀၀ ဖြစ်ပြီး တစ်နှစ်လျှင် မြေငှားရမ်းခနှုန်း ကျပ် ၇၂,၀၉၉,၂၀၀ ဖြစ်ပါသည်။

၄။ လုပ်ငန်း စီမံကိန်းကာလမှာ ၅၀ နှစ် ဖြစ်ပြီး တည်ဆောက်ရေးကာလမှာ ၆ နှစ် ကြာမြင့်မည် ဖြစ်ကြောင်း တင်ပြထားပါသည်။

၅။ လုပ်ငန်း၏ စုစုပေါင်း မတည်ငွေရင်းမှာ **အမေရိကန်ဒေါ်လာ ၂၇.၀၀၀ သန်း (ချေးငွေ US$ ၁၉.၀၀၀ သန်း အပါအဝင်)** ဖြစ်ပြီး ပြည်ပမှ Fishery Zone အတွက် US$ ၁,၄၇၂,၆၀၀.၀၀ ၊ Cold Storage Plant အတွက် US$ ၁,၀၈၈,၉၀၀.၀၀ ၊ Block Ice Plant အတွက် US$ ၁,၇၆၀,၇၀၀.၀၀ ၊ Aqua Feed Production Plant အတွက် ၆,၇၃၆,၁၉၁.၀၀ ၊ Electrical Equipment အတွက် US$ ၈၇၃,၅၀၁.၄၂ ၊ လုပ်ငန်းသုံးယာဉ် US$ ၁,၄၃၅,၀၀၀.၀၀ တင်သွင်းမည် ဖြစ်ပါသည်။ ရင်းနှီးမြှုပ်နှံမှုအား အောက်ပါအတိုင်း ထည့်ဝင်ထားပါသည်-

| ထည့်ဝင်သည့် အမျိုးအစား | ပြည်ပ | | ပြည်တွင်း | | စုစုပေါင်း (US$ သန်း) |
|---|---|---|---|---|---|
| | ထည့်ဝင်ငွေ (US$ သန်း) | ချေးငွေ (US$ သန်း) | ထည့်ဝင်ငွေ (US$ သန်း) | ချေးငွေ (US$ သန်း) | |
| ငွေသား | ၅.၂၈၀ | - | ၂.၅၈၂ | ၅.၆၃၃ | ၁၃.၄၉၅ |
| စက်ပစ္စည်းများနှင့် စက်ကိရိယာများ | - | ၁၂.၅၄၀ | - | ၀.၈၂၇ | ၁၃.၃၆၇ |
| မြေငှားရမ်းခ | - | | ၀.၀၄၈ | - | ၀.၀၄၈ |
| ပရိဘောဂနှင့်လုပ်ငန်း သုံးပစ္စည်းများ | - | | ၀.၀၉၀ | - | ၀.၀၉၀ |
| **စုစုပေါင်း** | **၅.၂၈၀** | **၁၂.၅၄၀** | **၂.၇၂၀** | **၆.၄၆၀** | **၂၇.၀၀၀** |

၆။ လုပ်ငန်းဆောင်ရွက်ရန်အတွက် ပြည်တွင်း ဝန်ထမ်း (၅၉၁)ဦး နှင့် ပြည်ပဝန်ထမ်း (၂၀)ဦး စုစုပေါင်း ဝန်ထမ်းဦးရေ (၆၁၁)ဦး ခန့်ထားမည် ဖြစ်ပါသည်။ ပြည်တွင်း ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံး လစာမှာ ကျပ် ၂၀၀,၀၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ ကျပ် ၂,၀၀၀,၀၀၀ ဖြစ်ပါသည်။ ပြည်ပ ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ် ၁,၅၀၀,၀၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ ကျပ် ၂,၂၀၀,၀၀၀ ဖြစ်ပါသည်။

၇။ ကုမ္ပဏီမှ ငါးမွေးမြူရေးကန် (၁၀၀)ကေတွင် Barramadi (Seabass) နှင့် ပုစွန်မွေးမြူရေးကန် (၁၀၀)ကေတွင် Giant Tiger Shrimp နှင့် Giant Fresh Water Prawn များ မွေးမြူသွားမည်ဖြစ်ပြီး လုပ်ငန်းနှင့် ဆက်စပ်သော ငါးပြုပြင် ထုတ်လုပ်မှု အအေးခန်းစက်ရုံနှင့် အအေးခန်းသိုလှောင်ရုံ၊ ငါးဆိပ်ခံတံတား ၊ ငါးဈေးကွက်၊ ငါးအစာတောင့်စက်ရုံများ ဆောင်ရွက်မည် ဖြစ်ပါသည်။ ထုတ်ကုန်များအား ပြည်ပ ၅၀% နှင့် ပြည်တွင်း ၅၀% ရောင်းချမည်ဖြစ်ပြီး အဆိုပြုလုပ်ငန်း၏ ထုတ်လုပ်မှု နှင့် ရောင်းဈေးနှုန်းမှာ တစ်ဖက်ပါအတိုင်း ဖြစ်ပါသည်-

| စဉ် | အမျိုးအစား | အရေအတွက် (kg) | | ရောင်းချမည့်ဈေးနှုန်း | |
|---|---|---|---|---|---|
| | | ပြည်ပ ၅၀% | ပြည်တွင်း ၅၀% | (US$/ kg) | (ကျပ်/kg) |
| (က) | Barramundi (Seabass) fish | ၁,၂၄၀,၀၀၀ | ၁,၂၄၀,၀၀၀ | ၃.၀၀၀ | ၄၃၀၀ |
| (ခ) | Giant tiger shrimp | ၅၀၀,၀၀၀ | ၅၀၀,၀၀၀ | ၆.၀၀၀ | ၈၄၀၀ |
| (ဂ) | Giant fresh water prawn | ၅၀၀,၀၀၀ | ၅၀၀,၀၀၀ | ၆.၀၀၀ | ၈၄၀၀ |

၈။ အဆိုပြုလုပ်ငန်းနှင့် ပတ်သက်၍ သက်ဆိုင်ရာ ဝန်ကြီးဌာနများမှ အောက်ပါအတိုင်း သဘောထား ပြန်ကြားလာပါသည်-

(က) **မွန်ပြည်နယ်အစိုးရအဖွဲ့မှ အဆိုပြုလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်း အပေါ် ကန့်ကွက်ရန် မရှိပါကြောင်း ပြန်ကြားလာပါသည်။** နောက်ဆက်တွဲ(ခ)

(ခ) စိုက်ပျိုးရေး၊ မွေးမြူရေးနှင့်ဆည်မြောင်းဝန်ကြီးဌာနမှ အဆိုပြုလုပ်ငန်း ဆောင်ရွက်ခြင်း ဖြင့် ဒေသတွင်း အလုပ်အကိုင် အခွင့်အလမ်းများစွာ ပေါ်ပေါက်လာနိုင်ပြီး ငါးမွေးမြူရေး လုပ်ငန်းများ ဖွံ့ဖြိုးတိုးတက်လာနိုင်ခြင်းတို့ကြောင့် ကန့်ကွက်ရန် မရှိပါကြောင်း ပြန်ကြားလာပါသည်။ နောက်ဆက်တွဲ(ခ)

(ဂ) **ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေးဝန်ကြီးဌာနမှ အဆိုပြုလုပ်ငန်းတွင် ဆိပ်ခံတံတား တည်ဆောက်ခြင်းနှင့်စပ်လျဉ်း၍ လိုအပ်ချက်များ ပြန်ကြားလာပါသည်။**
နောက်ဆက်တွဲ(ဂ)

(ဃ) **စက်မှုဝန်ကြီးဌာနမှ ကုမ္ပဏီ၏ အဆိုပြုလုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန်** တင်ပြလာခြင်းအပေါ် တင်သွင်းမည့် စက်ပစ္စည်းများသည် လုပ်ငန်းသဘာဝနှင့် ကိုက်ညီမှုရှိကြောင်းနှင့် လိုအပ်ချက်များအား ဖြည့်ဆည်းဆောင်ရွက်မည်ဆိုပါက ကန့်ကွက်ရန် မရှိပါကြောင်း ပြန်ကြားလာပါသည်။ နောက်ဆက်တွဲ(ဃ)

(င) **ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာ ပူးပေါင်းလုပ်ငန်းအဖွဲ့၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီး** ဌာနမှ ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာ ပူးပေါင်းလုပ်ငန်းအဖွဲ့၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဦးစီးဌာနမှ ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်း (Environmental Impact Assessment-EIA)ကို ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း အပိုဒ်(၄၉)၊ (၆၃)နှင့်အညီ ပြုစုဆောင်ရွက်ရန်နှင့် **ပတ်ဝန်းကျင်စီမံခန့်ခွဲမှု အစီအစဉ်** (Environmental Management Plan-EMP)ကို ရေးဆွဲ တင်ပြရမည် ဖြစ်ကြောင်း ပြန်ကြားလာပါသည်။ **နောက်ဆက်တွဲ(င)**

၉။ ငွေရေးကြေးရေးအထောက်အထားအဖြစ် Southern Myanmar Development Company Limited အမည်ဖြင့် AGD Bank တွင် ၂၄-၄-၂၀၁၉ ရက်စွဲဖြင့် US$ ၃၃၇,၄၄၉.၇၃ ရှိကြောင်း တင်ပြထားပါသည်။

၁၀။ ကုမ္ပဏီသည် ပြည်ပရှိ ဘဏ် တစ်ခုခုမှ ချေးငွေ အမေရိကန်ဒေါ်လာ ၁၉.၀၀၀ သန်းအား ချေးယူမည် ဖြစ်ပြီး အတိုးနှုန်းနှင့် ပြန်လည် ပေးဆပ်မည့် အစီအစဉ်အား တင်ပြထားပါ သည်။

၁၁။ အဆိုပြုလုပ်ငန်း၏ တည်နေရာပြ မြေပုံ နှင့် Layout Plan ၊ လုပ်ငန်းခွင်သာယာရေးနှင့် ဝန်ထမ်းသက်သာချောင်ချိရေး အစီအစဉ်၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေး အစီအစဉ်၊ မီးဘေးကြိုတင် ကာကွယ်ရေး စီမံချက်နှင့် CSR Project တို့ကို **တင်ပြထားပါသည်။**

၁၂။ အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ၂၀၁၉ ခုနှစ် ဇူလိုင်လ ၈ ရက်နေ့တွင် ကျင်းပပြုလုပ်သည့် ၂၃/၂၀၁၉ ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပြီး ဖြစ်ပါသည်။

**စိစစ်တင်ပြချက်**

၁၃။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ခြင်းနှင့် စပ်လျဉ်း၍ အောက်ပါအတိုင်း စိစစ်တင်ပြအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းသည် ဦးစားပေးမြှင့်တင်မည့် ရင်းနှီးမြှုပ်နှံမှု ကဏ္ဍတွင် ပါဝင်ပြီး ISIC Code-0321 ၊ 1020 တွင် အကျုံးဝင်ပါသည်။

(ခ) ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့် ဥပဒေရေးရာဌာနခွဲမှ ကော်မရှင် ခွင့်ပြုမိန့် နှင့် ဆုံးဖြတ်ချက်(မူကြမ်း)အား ဥပဒေနှင့်ညီညွတ်မှုရှိကြောင်း စိစစ်ပြီး ဖြစ်ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၄။ **ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Southern Myanmar Development Company Limited မှ** ရေသတ္တဝါ မွေးမြူခြင်း၊ ပြုပြင်ထုတ်လုပ်ခြင်း၊ အေးခဲခြင်း၊ ရေထွက်ပစ္စည်း ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်းအား **ဆောင်ရွက်ခွင့်ပြုပါရန်** အဆိုပြုချက်တင်ပြလာခြင်း အပေါ် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ခွင့်ပြုမိန့် ထုတ်ပေးရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)

(မြသူဇာ၊ တွဲဖက်အတွင်းရေးမှူး)

မိတ္တူကို

ရုံးလက်ခံ/မျှောစာတွဲ

နောက်ဆက်တွဲ (က)

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

ပြည်နယ်အစိုးရအဖွဲ့

မွန်ပြည်နယ်

စာအမှတ်၊ ၂၀၀ / ၄- ၃/ အဖရ(မွန်)(၀၄၃၄)

ရက် စွဲ ၊ ၂၀၁၉ ခုနှစ် ၊ ဩဂုတ်လ ၂၉ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်

ရန်ကုန်တိုင်းဒေသကြီး

အကြောင်းအရာ။ **သဘောထားမှတ်ချက် ပြန်ကြားခြင်း**

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏(၃-၈-၂၀၁၉)ရက်စွဲပါ စာအမှတ် ၊ မရက-၂/ ခ-၀၄၆/၂၀၁၉(၂၃၅-က)

ရေးမြို့နယ်၊ လမိုင်းမြို့၊ မေ့ကနင်ကျေးရွာ၊ ထော်အောင်အနောက်၊ ဦးပိုင်အမှတ်- (၁၊ ၃၊ ၄၊ ၆၊ ၇)၊ ကွင်းအမှတ်- (၁၀၅၀-ခ)၊ မြေဧရိယာ(၄၅၀.၆၂)ကေအား ငှားရမ်း၍ ရေသတ္တဝါမွေးမြူခြင်း၊ ပြုပြင်ထုတ်လုပ်ခြင်း၊ အေးခဲခြင်း၊ ရေထွက်ပစ္စည်းထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် Southern Myanmar Development Co.,Ltd မှ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့တင်ပြလာခြင်းအပေါ် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ရည်ညွှန်းပါစာဖြင့် သဘောထားမှတ်ချက်တောင်းခံလာခြင်းနှင့်ပတ်သက်၍ ကန့်ကွက်ရန်မရှိပါကြောင်း ပြန်ကြားအပ်ပါသည်။

ဒေါက်တာအေးဇံ

ဝန်ကြီးချုပ်

မိတ္တူကို

စီမံကိန်းနှင့်ဘဏ္ဍာရေးဝန်ကြီး

လုည့်လည်စာတွဲ

ရုံးလက်ခံ

နောက်ဆက်တွဲ (ခ)

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ**
**စိုက်ပျိုးရေး၊မွေးမြူရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန**
**ပြည်ထောင်စုဝန်ကြီးရုံး**

စာအမှတ် ၊ ၃/၂၀၀၀/မွေးရေကျေး( ၂၉၀ /၂၀၁၉)
ရက်စွဲ ၊ ၂၀၁၉ ခုနှစ်၊ ဩဂုတ်လ ၂၂ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **သဘောထားမှတ်ချက် ပြန်ကြားခြင်း**

ရည် ညွှန်း ချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၃-၈-၂၀၁၉ ရက်စွဲပါစာအမှတ်၊ မရက-၂/ခ-၀၄၆/၂၀၁၉ (၂၃၅-ခ)

၁။ Southern Myanmar Development Co., Ltd သည် ဦးပိုင်အမှတ်- (၁၂၃၄၆၇)၊ ကွင်းအမှတ်-(၁၀၅၀-ခ)၊ ထော်အောင်အနောက်၊ မော့ကနင်ကျေးရွာ၊ လမိုင်းမြို့၊ ရေးမြို့နယ်၊ မော်လမြိုင်ခရိုင်၊ မွန်ပြည်နယ်ရှိ မြေ (၄၅၀.၆၂) ဧက ကို ငှားရမ်း၍ ရေသတ္တဝါမွေးမြူခြင်း၊ ပြုပြင်ထုတ်လုပ်ခြင်း၊ အေးခဲခြင်း၊ ရေထွက်ပစ္စည်းထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် (MIC) သို့ တင်ပြခြင်းအပေါ် အဆိုပြုလုပ်ငန်းဆောင်ရွက်ခြင်း နှင့်စပ်လျဉ်း၍ ဝန်ကြီးဌာနအနေဖြင့် သဘောထားမှတ်ချက် ပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါကိစ္စနှင့်ပတ်သက်၍ မွန်ပြည်နယ်ငါးလုပ်ငန်းဦးစီးဌာနမှ ပြည်နယ်ဦးစီးဌာနမှူး ဦးဆောင်သောကွင်းဆင်းစစ်ဆေးရေးအဖွဲ့၏ စစ်ဆေးတွေ့ရှိသုံးသပ်ချက်များအရ-

(က) လျှောက်ထားမြေနေရာ(၄၅၀.၆၂)ဧကသည်ကော့ဒွတ်ချောင်းဘေးတွင်တည်ရှိပြီး ဒီရေအတက်အကျရှိသောမြေနေရာဖြစ်ပြီးမော့ကနင်ကျေးရွာမှကားလမ်းအတိုင်း ကော့ဒွတ်ကျေးရွာသို့ မိနစ်(၂၀)ခန့် မော်တော်ယာဉ်ဖြင့်လည်းကောင်း၊ ကော့ဒွတ်ကျေးရွာမှ နှစ်ကရင်ကျေးရွာသို့လှေဖြင့် (၁၅)မိနစ်ခန့်သွားရောက်ပြီးနှစ်ကရင်ကျေးရွာမှ ကားဖြင့်မိနစ်(၂၀)ခန့်၊ နှစ်ကရင်ချောင်းအား(၁၀)မိနစ်ခန့် လှေဖြင့် ဖြတ်ကူး၍သွားရသောမြေနေရာဖြစ်ကြောင်း၊

(ခ) လျှပ်စစ်မီးအနေဖြင့် သပြေရွာသစ်(နှစ်ကရင်အုပ်စု)တွင် တည်ရှိသော Southen Myanmar Development Company Limited ၏ လျှပ်စစ်ဓါတ်အားပေးလုပ်ငန်းမှ (၂၄)နာရီ လျှပ်စစ်မီးရရှိနိုင်ကြောင်း၊

(ဂ) လုပ်ငန်းအတွက်ရေချိုအားဆောင်ရွက်မည့်မြေဧရိယာနှင့်(၃)မိုင်ခန့်ဝေးသော ဘဲလမိုင်းကျေးရွာအနီးရှိ ကျိုက်ထောင်ကွင်းရှိ တစ်နှစ်ပတ်လုံး ရေရရှိသည့် ရေကန်မှ ရယူရန်စီမံထားသည်ကိုသိရှိရကြောင်း၊

(ဃ) Southen Myanmar Development Company Limited ၏ အထွေထွေ မန်နေဂျာမှ Size Plan အကြမ်းရေးဆွဲထားမှုအား တင်ပြနိုင်သော်လည်း နှစ်စဉ် အကောင်အထည်ဖော်မည့် လုပ်ငန်းစီမံချက်အား တင်ပြနိုင်ခြင်းမရှိသေးသည် ကိုစစ်ဆေးတွေ့ရှိရကြောင်း၊

(င) မြေသားကန်များတူးဖော်၍ မွေးမြူမည့်ငါးမျိုးစိတ်များအား ပညာရှင်များ ငှားရမ်းပြီးဆောင်ရွက်မည်ဖြစ်ကြောင်း၊

(စ) ရေသတ္တဝါ မွေးမြူခြင်း၊ ပြုပြင်ထုတ်လုပ်ခြင်း၊ အေးခဲခြင်း၊ ရေထွက်ပစ္စည်း ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်းဆောင်ရွက်မည့် မြေနေရာသည် ဒီရေ တက်လာပါက ၂/၃ပေခန့်ရေနစ်မြုပ်သောနေရာဖြစ်သဖြင့် ဒီရေအတက်အကျ အားထိန်းချုပ်နိုင်သည့်အစီအမံများထားရှိရန်လိုအပ်ပါကြောင်း၊

(ဆ) ရာသီမရွေး သွားလာနိုင်သော ကားလမ်းဖောက်လုပ်ထားရန်နှင့် သန့်ရှင်း ကောင်းမွန်သောရေချိုအားလိုအပ်သလောက်ရရှိနိုင်ရေးစီမံဆောင်ရွက်ထားရန် လိုအပ်ပါကြောင်း၊

(ဇ) ငါးမွေးကန်များနှင့် ငါးပြုပြင်ထုတ်လုပ်မည့် စက်ရုံများမှ စွန့်ထုတ်သောရေဆိုး များကြောင့် ပတ်ဝန်းကျင်ညစ်ညမ်းမှု မရှိစေရေး စနစ်တကျစီမံထားရှိရန် လိုအပ်ပါကြောင်း စိစစ်တင်ပြလာပါသည်။

၃။ သို့ဖြစ်ပါ၍ Southen Myanmar Development Company Limited မှ ဦးပိုင်အမှတ်- (၁၊ ၃၊ ၄၊ ၆၊ ၇)၊ ကွင်းအမှတ်-(၁၀၅၀-ခ)၊ ထော်အောင်အနောက်၊ မော့ကနင်ကျေးရွာ၊ လမိုင်းမြို့၊ ရေးမြို့နယ်၊ မော်လမြိုင်ခရိုင်၊ မွန်ပြည်နယ်ရှိမြေ(၄၅၀.၆၂)ဧကအားငှားရမ်း၍ ရေသတ္တဝါမွေးမြူခြင်း၊ ပြုပြင်ထုတ်လုပ်ခြင်း၊ အေးခဲခြင်း၊ ရေထွက်ပစ္စည်းထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့်ပြုနိုင်ပါရန်မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ တင်ပြလာခြင်းအပေါ် အဆိုပြုလုပ်ငန်း ဆောင်ရွက်ခြင်းနှင့် ပတ်သက်၍ အကောင်အထည်ဖော်ဆောင်ရွက်မည်ဆိုပါက ဒေသတွင်းအလုပ်အကိုင် အခွင့်အလမ်းများစွာ

ပေါ်ပေါက်လာနိုင်ပြီး ငါးမွေးမြူရေးလုပ်ငန်းများဖွံ့ဖြိုးတိုးတက်လာနိုင်ခြင်းတို့ကြောင့် ဝန်ကြီးဌာန အနေဖြင့် ကန့်ကွက်ရန်မရှိပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
ဒေါက်တာခင်ဇော်၊အမြဲတမ်းအတွင်းဝန်

မိတ္တူ-

(၁) ညွှန်ကြားရေးမှူးချုပ်၊ ငါးလုပ်ငန်းဦးစီးဌာန
(၂) ရုံးလက်ခံ
(၃) မျှော

နောက်ဆက်တွဲ (ဂ)

DA 472
ဒု-ညွှန်ချုပ်(၁)ဝင်စာ
စာအမှတ် 003
ရက်စွဲ 26.8.19
အချိန်

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
# ပို့ဆောင်ရေးနှင့်ဆက်သွယ်ရေးဝန်ကြီးဌာန
# ဝန်ကြီးရုံး

ပို့ဆောင်ရေးနှင့်ဆက်သွယ်ရေးဝန်ကြီးဌာန ဝန်ကြီးရုံး

စာအမှတ်၊ ပဆ-(၃)/(မြေ-MPA)/( ၅၈၈ )

ရက်စွဲ ၊ ၂၀၁၉ ခုနှစ်၊ ဩဂုတ်လ ၂၂ရက်

NPT-3600
23.8.19

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

MIC 322 / 27.8

အကြောင်းအရာ။ **သဘောထားမှတ်ချက် ပြန်ကြားခြင်း**

ရည် ညွှန်း ချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၃-၈-၂၀၁၉ ရက်စွဲပါ စာအမှတ်၊ မရက- ၂/ ခ-၀၄၆/၂၀၁၉(၂၃၅-ဂ)

၁။ Southern Myanmar Development Company Limited က ဦးပိုင်အမှတ် - (၁၊ ၃၊ ၄၊ ၆၊ ၇)၊ ကွင်းအမှတ်-(၁၀၅၀-ခ)၊ ထော်အောင်အနောက်၊ မော့ကနင်ကျေးရွာ၊ လမိုင်းမြို့၊ ရေးမြို့နယ်၊ မော်လမြိုင်ခရိုင်၊ မွန်ပြည်နယ်ရှိ မြေ (၄၅၀.၆၂)ဧကကို ငှားရမ်း၍ ရေသတ္တဝါမွေးမြူခြင်း၊ ပြုပြင်ထုတ်လုပ်ခြင်း၊ အေးခဲခြင်း၊ ရေထွက်ပစ္စည်းထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်းကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေ အရ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာသည့်ကိစ္စအပေါ် ဆိပ်ခံတံတားတည်ဆောက်ခြင်းနှင့် စပ်လျဉ်း၍ သဘောထားမှတ်ချက် ပြန်ကြားပေးနိုင်ပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်က ရည်ညွှန်းပါ စာဖြင့် ညှိနှိုင်းမေတ္တာရပ်ခံလာသည့် ကိစ္စဖြစ်ပါသည်။

၂။ အဆိုပါကိစ္စနှင့်စပ်လျဉ်း၍ ဆိပ်ခံတံတားတည်ဆောက်ရန် အဆိုပြုနေရာသည် ရေးမြို့နယ်၊ နှစ်ကရင်ကျေးရွာနှင့် အနင်းကျေးရွာအကြားတွင် တည်ရှိပြီး မော့ကနင်ချောင်း၊ သပြေချောင်းနှင့် ကော့ဒွတ်ချောင်းများရှိပြီး ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေးဝန်ကြီးဌာန၊ ရေအရင်းအမြစ်နှင့် မြစ်ချောင်းများဖွံ့ဖြိုးတိုးတက်ရေးဦးစီးဌာနမှ စီမံပိုင်ခွင့်ရှိသော မြစ်ချောင်းနယ်နှင့် ကမ်းနားနယ်အတွင်းနှင့် မြန်မာ့ဆိပ်ကမ်းအာဏာပိုင် ဧရိယာအတွင်း ကျရောက်ခြင်းမရှိဘဲ ပင်လယ်ကမ်းရိုးတန်းတွင် ကျရောက်ကြောင်း စိစစ်တွေ့ရှိရပါသည်။

၃။ ဆိပ်ခံတံတား တည်ဆောက်မည်ဆိုပါက အောက်ပါအတိုင်း ဆောင်ရွက်ရန် လိုအပ်မည်ဖြစ်ပါသည်-

(က) ဆိပ်ကမ်းလုပ်ငန်းများ ဆောင်ရွက်ခြင်းမှ ရရှိသည့် စုစုပေါင်းဝင်ငွေ အပေါ် ၅% ကို မြန်မာ့ဆိပ်ကမ်းအာဏာပိုင်ထံသို့ ခိုင်ကြေး (Royalty Fee) အဖြစ် ပေးဆောင်ရမည်ဖြစ်ပြီး မြန်မာ့ဆိပ်ကမ်းအာဏာပိုင်နှင့် Southern Myanmar Development Co., Ltd. တို့အကြား နှစ်ဦးသဘောတူစာချုပ်ကို ချုပ်ဆိုရန်၊

(ခ) ဆိပ်ကမ်းတည်ဆောက်ပြီး ဆိပ်ကမ်းဝန်ဆောင်မှုလုပ်ငန်းများ စတင်ဆောင်ရွက်မည်ဆိုပါက မြန်မာ့ဆိပ်ကမ်းအာဏာပိုင်ထံမှ အပြည်ပြည်ဆိုင်ရာဆိပ်ကမ်းလုပ်ငန်း လုပ်ကိုင်ခွင့်လိုင်စင်ကို လျှောက်ထားရန်၊

(ဂ) ဆိပ်ခံတံတားကို အပြည်ပြည်ဆိုင်ရာ သင်္ဘောများ ဝင်/ထွက် ဆိုက်ကပ်ရာတွင်လည်း မြန်မာ့ဆိပ်ကမ်းအာဏာပိုင်အား သင်္ဘောကိုယ်စားလှယ် (Shipping Agent) အဖြစ် ခန့်အပ်ရန်နှင့် သင်္ဘောများ ဝင်/ထွက်သွားလာရာတွင် သတ်မှတ် Port Due နှင့် Light Due များကို ပေးဆောင်ရန်။

၄။ Southern Myanmar Development Co., Ltd. အနေဖြင့် မွန်ပြည်နယ်၊ မော်လမြိုင်ခရိုင်၊ ရေးမြို့နယ်၊ လမိုင်းမြို့၊ မော့ကနင်ကျေးရွာအနီးတွင် ရေသတ္တဝါမွေးမြူခြင်း၊ ပြုပြင်ထုတ်လုပ်ခြင်း၊ အေးခဲခြင်း၊ ရေထွက်ပစ္စည်းထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်းများ ဆောင်ရွက်မည်ဆိုပါက သက်ဆိုင်ရာဝန်ကြီးဌာန၏ သဘောထားမှတ်ချက်၊ သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာနရှိ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၏ သဘောထားမှတ်ချက်များ၊ မွန်ပြည်နယ်အစိုးရအဖွဲ့၏ သဘောထားမှတ်ချက်တို့နှင့်အညီ ဆောင်ရွက်ရန် လိုအပ်မည်ဖြစ်ပါသည်။

၅။ ရေးမြို့နယ်၊ နှစ်ကရင်ကျေးရွာနှင့် အနင်းကျေးရွာအကြားတွင် တည်ရှိပြီး မော့ကနင်ချောင်း၊ သပြေချောင်းနှင့် ကော့ဒွတ်ချောင်းအနီးတဝိုက်ဒေသရှိ ဒေသခံများသည် ငါးလုပ်ငန်းဖြင့် စီးပွားရှာခြင်းကို အဓိကဆောင်ရွက်ကြပြီး Southern Myanmar Development Co., Ltd. မှ ဆိပ်ခံတံတားတည်ဆောက်မည်ဆိုပါက ဒေသခံ ငါးဖမ်းစက်လှေများနှင့် ရေလုပ်သားများအတွက် ထိခိုက်နိုင်မှု ရှိ-မရှိကို ဆန်းစစ်ကြည့်ရန် လိုအပ်မည်ဖြစ်ပါသည်။

၆။ ထို့ပြင် Southern Myanmar Development Co., Ltd. မှ ဆောင်ရွက်မည့်နေရာသည် ပင်လယ်ကမ်းစပ်တွင်တည်ရှိပြီး ငါးလုပ်ငန်းဖြင့် အသက်မွေးဝမ်းကြောင်းပြုကြသည့် ဒေသခံပြည်သူများသည်လည်း အနီးတဝိုက်တွင် နေထိုင်ကြသည့်အတွက် သဘာဝပတ်ဝန်းကျင်ထိခိုက်မှု လေ့လာအကဲဖြတ်ချက် (Environmental Impact Assessment-EIA) နှင့် လူမှုပတ်ဝန်းကျင်ထိခိုက်မှု လေ့လာအကဲဖြတ်ချက် (Social Impact Assessment-SIA) တို့ ပါဝင်သည့် ဘက်စုံဖြစ်နိုင်ခြေလေ့လာမှု (Comprehensive Feasibility Study) ဆောင်ရွက်ရန် လိုအပ်မည်ဖြစ်ကြောင်း တွေ့ရှိရပါသည်။

၇။ သို့ဖြစ်ပါ၍ Southern Myanmar Development Co., Ltd. မှ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မွန်ပြည်နယ်၊ မော်လမြိုင်ခရိုင်၊ ရေးမြို့နယ်၊ လမိုင်းမြို့၊ မော့ကနင်ကျေးရွာအနီး ပင်လယ်ကမ်းစပ်ရှိ မြေ (၄၅၀.၆၂) ဧကတွင် ရေသတ္တဝါမွေးမြူခြင်း၊ ပြုပြင်ထုတ်လုပ်ခြင်း၊ အေးခဲခြင်း၊ ရေထွက်ပစ္စည်းထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်းများ ဆောင်ရွက်မည့်ကိစ္စအပေါ် အထက်စာပိုဒ် (၃)၊ (၄)၊

နှင့် (၆) ပါ အချက်များနှင့်အညီဆောင်ရွက်ရန် လိုအပ်မည်ဖြစ်ပါကြောင်း သဘောထားပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး (ကိုယ်စား)
ဝင်းခန့် - အမြဲတမ်းအတွင်းဝန်

မိတ္တူကို

- ရေအရင်းအမြစ်နှင့် မြစ်ချောင်းများဖွံ့ဖြိုးတိုးတက်ရေးဦးစီးဌာန
- မြန်မာ့ဆိပ်ကမ်းအာဏာပိုင်
- ရုံးလက်ခံ
- မျှောစာတွဲ

နောက်ဆက်တွဲ (ဃ)

MIC 323/28/7

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
# စက်မှုဝန်ကြီးဌာန

စာအမှတ်၊ ၁၅- စမ(၂) ၂၀၁၈-၂၀၁၉( ၃၉၀၆ )
ရက် စွဲ၊ ၂၀၁၉ ခုနှစ်၊ ဩဂုတ်လ ၂၃ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **သဘောထားမှတ်ချက် ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၃.၈.၂၀၁၉ ရက်စွဲပါ စာအမှတ်၊ မရက- ၂ / ခ - ၀၄၆/ ၂၀၁၉ ( ၂၃၅-ဃ )

၁။ Southern Myanmar Development Company Limited. မှ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မွန်ပြည်နယ်၊ မော်လမြိုင်ခရိုင်၊ ရေးမြို့နယ်၊ လမိုင်းမြို့၊ မော့ကနင်ကျေးရွာ၊ ထော်အောင်အနောက်၊ ကွင်းအမှတ်( ၁၀၅၀-ခ )၊ ဦးပိုင်အမှတ်( ၁၊ ၃၊ ၄၊ ၆၊ ၇ )ရှိ မြေ( ၄၅၀.၆၂ )ကေတွင် ငှားရမ်း၍ ရေသတ္တဝါမွေးမြူခြင်း၊ ပြုပြင်ထုတ်လုပ်ခြင်း၊ အေးခဲခြင်း၊ ရေထွက်ပစ္စည်းထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းအပေါ် လုပ်ငန်းနှင့်စပ်လျဉ်း၍ တင်သွင်းမည့် စက်ပစ္စည်းများသည် လုပ်ငန်းသဘာဝနှင့်ကိုက်ညီခြင်းရှိ/မရှိအပေါ် သဘောထားမှတ်ချက်အား ၂၁.၈.၂၀၁၉ ရက်နေ့နောက်ဆုံးထား၍ သဘောထားမှတ်ချက်ပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းခဲ့ပါသည်။

၂။ အဆိုပါ ကုမ္ပဏီမှ ဆောင်ရွက်မည့် လုပ်ငန်းများနှင့်ပတ်သက်၍ အောက်ပါအတိုင်း စိစစ်တွေ့ရှိရပါသည်-

(က) Machinery & Equipment (57)Items နှင့် Electrical Equipment (21)Items တို့အား တရုတ်နိုင်ငံနှင့် အာဆီယံနိုင်ငံများမှ တင်သွင်းမည် ဖြစ်ပါသည်။

( ခ ) စက်ပစ္စည်းတန်ဖိုးများမှာ အနီးစပ်ဆုံး မှန်ကန်မှုရှိ၍ အသုံးပြုမည့်စက်ပစ္စည်းများမှာ အမှန်တကယ်လိုအပ်ကြောင်း စိစစ်တွေ့ရှိရပြီး Energy သုံးစွဲမှုနည်းသောစက်ပစ္စည်း များဖြစ်ရန်နှင့် ထိခိုက်မှုနည်းစေရန် အစီအမံများပါရှိရန် လိုအပ်ပါသည်။

( ဂ ) တင်သွင်းမည့် စက်ပစ္စည်းများသည် ငါး၊ ပုဇွန်မွေးမြူထုတ်လုပ် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းအတွက် အမှန်တကယ်လိုအပ်သည့် ပစ္စည်းများဖြစ်သော်လည်း

Energy သုံးစွဲမှုနည်းပါးသော စက်ပစ္စည်းများဖြစ်ရန်နှင့် ပတ်ဝန်းကျင်ညစ်ညမ်းမှု နည်းပါးစေရန် လို အပ်ပါသည်။

(ဃ) ငါး၊ ပုဇွန်မွေးမြူရေးနှင့် အအေးခန်းစက်ရုံများအတွက် အအေးပေးပစ္စည်းအဖြစ် Ammonia ဝယ်ယူအသုံးပြုရမှုကို ဖော်ပြထားသော်လည်း အခြားဓာတုပစ္စည်းများ အသုံးပြုမှုရှိပါကလည်း ပြည့်စုံတိကျစွာ ဖော်ပြရန် လိုအပ်ပါသည်။

( င ) ကုမ္ပဏီမှ တင်သွင်းမည့် ဓာတုပစ္စည်းများအနက် သာမန်ဓာတုပစ္စည်းများကို ဓာတုပစ္စည်းနှင့် ဆက်စပ်ပစ္စည်းများအန္တရာယ်မှ တားဆီးကာကွယ်ရေးဥပဒေ ပုဒ်မ ၁၃ အရ ပြည်ပမှတင်သွင်းခြင်း၊ သယ်ယူပို့ဆောင်ခြင်း၊ သိုလှောင်ခြင်း၊ အသုံးပြုခြင်း၊ လက်ဝယ် ထားရှိခြင်း၊ ပြည်ပသို့ တင်ပို့ခြင်း၊ ဖော်စပ်ထုတ်လုပ်ခြင်းတို့အတွက် လုပ်ငန်းလိုင်စင်နှင့် ဓာတုပစ္စည်းနှင့်ဆက်စပ်ပစ္စည်းများ အန္တရာယ်မှ တားဆီးကာကွယ်ရေးဥပဒေ ပုဒ်မ ၂၀ အရ လုပ်ငန်းတွင် အသုံးပြုမည့် ဓာတုပစ္စည်းများကို မှတ်ပုံတင်ပြုလုပ်ရန် လိုအပ်ပါသည်။

( စ ) အေးခဲရာတွင် အသုံးပြုမည့် Refrigerant နှင့်ပတ်သက်၍ Safety ပိုင်း သေချာစွာ ဆောင်ရွက်၍ ဓာတုပစ္စည်းနှင့် ဆက်စပ်ပစ္စည်းများအန္တရာယ်မှ တားဆီးကာကွယ်ရေး ဥပဒေဗဟိုကြီးကြပ်ရေးအဖွဲ့၏ ထောက်ခံချက်ရရှိရေး ဆောင်ရွက်ရန် လိုအပ်ပါသည်။

(ဆ) အသုံးပြုသော ဓာတုပစ္စည်းများ အန္တရာယ်ကင်းရှင်းစေရေးအတွက် စက်မှုဝန်ကြီးဌာနမှ ထုတ်ပြန်ထားသော ဓာတုပစ္စည်းနှင့် ဆက်စပ်ပစ္စည်းများအန္တရာယ်မှ တားဆီး ကာကွယ်ရေး ဥပဒေနှင့် နည်းဥပဒေများအတိုင်း လိုက်နာဆောင်ရွက်ရန်နှင့် အအေးခန်းစက်ရုံများတွင် အအေးပေးပစ္စည်းအဖြစ် အမိုးနီးယားဓာတ်ငွေ့ကိုင်တွယ်အသုံးပြုသူများ လိုက်နာဆောင်ရွက်ရန် စည်းမျဉ်းစည်းကမ်းများ အမိန့်ညွှန်ကြားချက်များအား လိုက်နာဆောင်ရွက်ရန် လိုအပ်ပါသည်။

( ဇ ) ဓာတုပစ္စည်းများ အန္တရာယ်ကင်းရှင်းစွာ ကိုင်တွယ် အသုံးပြုစေရေးအတွက် ကိုင်တွယ် အသုံးပြုသူများအား Storage and Handling ကဲ့သို့ Safety သင်တန်းများ တက်ရောက်စေရေး ဆောင်ရွက်ပေးရန် လိုအပ်ပါသည်။

( ဈ ) အမျိုးသားပတ်ဝန်းကျင်ဆိုင်ရာ အရည်အသွေး (ထုတ်လွှတ်မှု) လမ်းညွှန်ချက်များ( National Environmental Quality (Emission) Guidelines – EQEGs )အရ

ငါးပြုပြင် ထုတ်လုပ်သည့်လုပ်ငန်း ( Fish Processing ) များတွင် အဓိကထား တိုင်းတာသင့်သည့် စွန့်ပစ်ရည်၏ pH, BOD, COD, TSS, TDS, Teamperature, Total Nitrogenနှင့် Total Phosphrous တို့သည် EQEGs သတ်မှတ်ချက် ထက်ပိုများနေလျှင် ရေနေသတ္တဝါများနှင့် အပင်များ ပေါက်ပွား ကြီးထွားမှုကို ထိခိုက်စေနိုင်သောကြောင့် ၎င်းတို့ကို ပြင်ပဓာတ်ခွဲခန်းများတွင် တိုင်းတာ၍ EQEGs နှင့် နှိုင်းယှဉ်စစ်ဆေးသင့်ပါ သည်။

(ည) ငါးပုဇွန်ထုတ်လုပ်ခြင်းလုပ်ငန်းကြောင့် သဘာဝပတ်ဝန်းကျင် ထိခိုက်မှုမရှိစေရေး အတွက် လုပ်ငန်းအတိုင်းအတာအလျောက် ပတ်ဝန်းကျင်နှင့် လူမှုရေးအရ ထိခိုက်မှုဆန်းစစ်ခြင်း ( Environmental & Social Impact Assessment – ESIA ) (သို့မဟုတ်) ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် ( Environmental Management Plan – EMP ) တို့ကို သယံဇာတနှင့် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးဝန်ကြီးဌာန၏ လမ်းညွှန်ချက်နှင့်အညီ အစီရင်ခံစာရေးဆွဲရန် လိုအပ်ပါသည်။

( ဋ ) မွန်ပြည်နယ် စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေးဦးစီးဌာနတွင် ပုဂ္ဂလိကစက်မှု လုပ်ငန်း မှတ်ပုံတင်ရန်၊ စိုက်ပျိုးရေး၊ မွေးမြူရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန၊ ငါးလုပ်ငန်းဦးစီး ဌာနမှ ရေထွက်ပစ္စည်းပြုပြင်စက်ရုံလိုင်စင် ( PE )၊ ငါးလုပ်ငန်း ဦးစီးဌာန၏ Quality Control and Research Section ဓာတ်ခွဲခန်းများ၌ စမ်းသပ်စစ်ဆေးချက်များ၊ မြန်မာနိုင်ငံငါးလုပ်ငန်းအဖွဲ့ချုပ်မှ ပေးအပ်သော US-FDA ၏ HACCP Regulation နှင့် GMP တို့အတွက် ပေါင်းစပ်ပေးအပ်သည့် HACCP Certificate ရရှိရန်နှင့် သက်ဆိုင်ရာဌာနများ၏ ထောက်ခံချက်များ ရယူဆောင်ရွက်ရန် လိုအပ်ပါသည်။

( ဌ ) ဝန်ထမ်းများအား တစ်ကိုယ်ရည်ကာကွယ်ရေးဝတ်စုံ ( PPE ) ဝတ်ဆင်စေရန် ၊ လုပ်ငန်းခွင် ဘေးအန္တရာယ်ကင်းရှင်းရေးနှင့် ကျန်းမာရေးစောင့်ရှောက်မှုများ ဂရုပြု ဆောင်ရွက်ရန် လိုအပ်ပါသည်။

( ဍ ) ရပ်ရွာလူမှုအကျိုးပြုလုပ်ငန်းများ Corporate Social Resposibility ( CSR ) အတွက် မျှတကျခံဆောင်ရွက်ရန် လိုအပ်ပါသည်။

( ဃ ) ငါးပုဇွန်တို့ကို ထုတ်လုပ်ရာတွင် ပါဝင်ပစ္စည်း ( Ingredient )များသည် Food Grade ဖြစ်ရန်နှင့် သတ်မှတ်ပမာဏအတွင်းသာ ထည့်သွင်းရန် လိုအပ်ပြီး ငါး သန့်စင်ရာမှ ထွက်ရှိလာသော ငါးဆီကိုကြိုချက်ပြီး ငါးဆီဖောင်းပြုလုပ်၍ ငါးကြေးခွံနှင့် အခြား ဘေး ထွက်ပစ္စည်းများကို အခြောက်လှမ်းအမှုန့်ကြိတ်ပြီး ငါးကျိုဆီဖြင့် ငါးစာအဖြစ် ( Recycle )ငါးစာတောင့်ပြုလုပ်ကာ ပြန်လည်အသုံး ပြုသင့်ပါသည်။

၃။ သို့ပါ၍ Southern Myanmar Development Company Limited. မှ ရေသတ္တဝါ မွေးမြူခြင်း၊ ပြုပြင်ထုတ်လုပ်ခြင်း၊ အေးခဲခြင်း၊ ရေထွက်ပစ္စည်းထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်း လုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းအပေါ် တင်သွင်းမည့် စက်ပစ္စည်းများသည် လုပ်ငန်းသဘာဝနှင့်ကိုက်ညီမှုရှိကြောင်းနှင့် အထက်ပါ လိုအပ်ချက်များအား ဖြည့်ဆည်းဆောင်ရွက် မည်ဆိုပါက ဤဝန်ကြီးဌာနအနေဖြင့် ကန့်ကွက်ရန်မရှိပါကြောင်း ပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
( ကိုကိုလွင်၊ အမြဲတမ်းအတွင်းဝန် )

မိတ္တူကို

စက်မှုပူးပေါင်းဆောင်ရွက်ရေးဦးစီးဌာန
စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေးဦးစီးဌာန
ရုံးလက်ခံ
မျှောစာတွဲ

နောက်ဆက်တွဲ (၉)

ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့
ရန်ကုန်မြို့
စာအမှတ်၊ ၀၀၁/ MIC (OSS)/ ၀၁(၅၂ / ၁၉)
ရက်စွဲ၊ ၂၀၁၉ ခုနှစ်၊ ဩဂုတ်လ ၈ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

MIC, 281 / 8/2

အကြောင်းအရာ။ **Southern Myanmar Development Company Limited မှ ရေသတ္တဝါမွေးမြူခြင်း၊ ပြုပြင်ထုတ်လုပ်ခြင်း၊ အေးခဲခြင်း၊ ရေထွက်ပစ္စည်းထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် ကိစ္စနှင့်စပ်လျဉ်း၍ သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂-၈-၂၀၁၉ ရက်စွဲပါစာအမှတ်၊ မရက-၂/ ခ-၀၄၆/၂၀၁၉ (၂၃၃)

၁။ မြန်မာနိုင်ငံရှိ Bedok Construction & Engineering Company Limited မှ ၃၄%၊ စင်္ကာပူနိုင်ငံရှိ Asiatech Power Pte., Ltd. မှ ၃၃% နှင့် Siam Gas Power Pte., Ltd. မှ ၃၃% အစုရှယ်ယာများအသီးသီးထည့်ဝင်ကာ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Southern Myanmar Development Company Limited တည်ထောင်ပြီး မွန်ပြည်နယ်၊ မော်လမြိုင်ခရိုင်၊ ရေးမြို့နယ်၊ လမိုင်းမြို့၊ မော့ကနင်းကျေးရွာ၊ ဦးပိုင်အမှတ်- (၁၊ ၃၊ ၄၊ ၆၊ ၇)၊ ကွင်းအမှတ်- ၁၀၅၀(ခ) ရှိ မြေ ၄၅၀.၆၂ ဧက (၁,၈၂၃,၅၉၄.၂၅ စတုရန်းမီတာ) အားငှားရမ်း၍ ရေသတ္တဝါမွေးမြူခြင်း၊ ပြုပြင်ထုတ်လုပ်ခြင်း၊ အေးခဲခြင်း၊ ရေထွက်ပစ္စည်းထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်းကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းနှင့်စပ်လျဉ်း၍ စိစစ်ပြီး သဘောထားမှတ်ချက် ပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါပေးပို့လာသော ရင်းနှီးမြှုပ်နှံမှုဆိုင်ရာ အဆိုပြုလွှာအား စိစစ်ရာတွင် အောက်ပါအချက်များကိုလေ့လာတွေ့ရှိရပါသည် -

(က) ပေးပို့လာသော အဆိုပြုလွှာတွင် ကနဦးရင်းနှီးမြှုပ်နှံမှု ကာလမှာ(၅၀) နှစ်ဖြစ်ပြီး၊ သက်တမ်းတိုး (၁၀) နှစ် (၂) ကြိမ် ဆောင်ရွက်မည်ဖြစ်ကာ၊ တည်ဆောက်ရေးကာလမှာ (၆) နှစ်ဖြစ်ကြောင်း၊

(ခ) အဆိုပြုလုပ်ငန်းအားမြေ (၁,၈၂၃,၅၉၄.၂၅ စတုရန်းမီတာ) အနက် (၈၀၉,၃၇၀.၂ စတုရန်းမီတာ) တွင် ငါးမွေးမြူရေးကန်နှင့် ပုစွန်မွေးမြူရေးကန်များအဖြစ် တူးဖော်သွားမည် ဖြစ်ပြီး၊ ကျန် (၁,၀၁၄,၂၂၃.၀၅ စတုရန်းမီတာ) တွင် ငါးများသယ်ယူပို့ဆောင်မည့် ဆိပ်ကမ်း၊ ငါးများရောင်းဝယ်မည့်ဈေး၊ ရေခဲစက်၊ အေးခဲစက်ရုံနှင့် တိရစ္ဆာန်အစာစက်ရုံစသည့် အခြေခံအဆောက်အဦးများ တည်ဆောက်ပြီး ရေထွက်ပစ္စည်း ရောင်းဝယ်ရေးစခန်း၊ ရေထွက်ကုန် ထုတ်လုပ်ဖြန့်ဖြူးခြင်းလုပ်ငန်းများ ဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

(ဂ) ဝန်ထမ်းများ သက်သာချောင်ချိရေး အစီအစဉ်များ၊ မီးဘေး ကြိုတင်ကာကွယ်ရေး အစီအမံများကိုလည်း ထားရှိ ဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

(ဃ) လုပ်ငန်းမှရရှိလာမည့် အသားတင်အမြတ်ငွေ၏ (၂%) ကို လူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility-CSR) လုပ်ငန်းများတွင် ထည့်ဝင်အသုံးပြုသွားမည် ဖြစ်ကြောင်း၊

(င) သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်စပ်လျဉ်း၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာနမှ ထုတ်ပြန်ထားသော ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံး/လုပ်နည်း၊ အမိန့်နှင့် ညွှန်ကြားချက်များကို လိုက်နာ ဆောင်ရွက်သွားမည် ဖြစ်ကြောင်း ဖော်ပြပါရှိပါသည်။

၃။ လုပ်ငန်းလည်ပတ် ဆောင်ရွက်ခြင်းနှင့်စပ်လျဉ်း၍ အောက်ဖော်ပြပါ ပတ်ဝန်းကျင်ဆိုင်ရာထိခိုက်မှုများ ဖြစ်ပေါ်လာနိုင်ကြောင်း လေ့လာသုံးသပ်ရပါသည်-

(က) Southern Myanmar Development Company Limited မှ ရေသတ္တဝါမွေးမြူခြင်း၊ ပြုပြင်ထုတ်လုပ်ခြင်း၊ အေးခဲခြင်း၊ ရေထွက်ပစ္စည်းထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်းဆောင်ရွက်ရန်အတွက် အဆောက်အဦ တည်ဆောက်ခြင်းလုပ်ငန်း ဆောင်ရွက်ရာတွင် ထွက်ရှိလာမည့် ဖုန်မှုန့်များ၊ လုပ်ငန်းသုံး ယာဉ်/ ယန္တရားများမှ ထွက်ရှိ လာမည့် စက်ဆီ၊ ချောဆီ၊ အခိုးအငွေ့များကြောင့် အနီး ပတ်ဝန်းကျင်ရှိ လေ ထု၊ မြေထုနှင့် ရေထုညစ်ညမ်းမှု ဖြစ်ပေါ်စေနိုင်ခြင်း၊

(ခ) တည်ဆောက်ရေးလုပ်ငန်းသုံး ယာဉ်ယန္တယားများနှင့် စက်ပစ္စည်းများမှ ထွက်ရှိလာမည့် စက်ဆီ၊ ချောဆီနှင့် စွန့်ပစ်ပစ္စည်းများကြောင့် ပတ်ဝန်းကျင်ရှိမြေထု၊ ရေထုနှင့် လေထု ညစ်ညမ်းခြင်း၊

(ဂ) အလုပ်သမားများ၏ စွန့်ပစ်ပစ္စည်းများနှင့် မိလ္လာအညစ်အကြေးများကြောင့် ပတ်ဝန်းကျင် ညစ်ညမ်းခြင်း၊

(ဃ) လုပ်ငန်းလည်ပတ်ရာတွင် လိုအပ်သည့် ရေအားစနစ်တကျ ထုတ်ယူသုံးစွဲမှုမရှိခြင်းကြောင့် မြေအောက်ရေ အရည်အသွေးနှင့် မျက်နှာပြင်နိမ့်ကျခြင်း၊

(င) အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မွေးမြူရေးအစာတောင့် ထုတ်လုပ်သည့် စက်ရုံ၊ ငါး/ ပုစွန်စသည်တို့ကို သိုလှောင်သည့် စက်ရုံ၊ ငါးနှင့်ပင်လယ်ရေထွက် ကုန်ပစ္စည်းများ ထုတ်လုပ်သည့်စက်ရုံမှ ထွက်ရှိလာမည့် စွန့်ပစ်ပစ္စည်းများနှင့် ရေဆိုးများကို စနစ်တကျ စွန့်ပစ်ခြင်းမပြုပါက ပတ်ဝန်းကျင် မြေထု၊ ရေထုနှင့် လေထုညစ်ညမ်းမှု ဖြစ်ပေါ်စေနိုင်ခြင်း၊ ဆိပ်ကမ်း တည်ဆောက်ခြင်းကြောင့် ကမ်းရိုးတန်းဒေသနှင့် ဇီဝမျိုးစုံမျိုးကွဲများအပေါ် ထိခိုက်မှု ဖြစ်ပေါ်စေနိုင်ခြင်း၊ ငါးမျိုးစိတ် အပါအဝင် ဇီဝမျိုးကွဲများ နေထိုင်ကျက်စားသွားလာမှုကို ထိခိုက်စေနိုင်ခြင်း၊ ပတ်ဝန်းကျင်ရှိ ပြည်သူများ၏ ကျန်းမာရေးကို ထိခိုက်စေနိုင်ခြင်းစသည့် ပတ်ဝန်းကျင်ဆိုင်ရာ ထိခိုက်မှု ပြဿနာများဖြစ် ပေါ်လာစေနိုင်ပါသည်။

၄။ သို့ဖြစ်ပါ၍ Southern Myanmar Development Company Limited မှ ရေသတ္တဝါမွေးမြူခြင်း၊ ပြုပြင်ထုတ်လုပ်ခြင်း၊ အေးခဲခြင်း၊ ရေထွက်ပစ္စည်း ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန်တင်ပြလာခြင်းကိစ္စနှင့်စပ်လျဉ်း၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာ ဆောင်ရွက်ရမည့် လုပ်ငန်းများကို အောက်ပါအတိုင်း သဘောထားမှတ်ချက် ပြန်ကြားအပ် ပါသည် -

(က) အဆိုပြုလုပ်ငန်းများကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာ အချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် နည်းစနစ်များအား အသုံးပြုရန်နှင့် အဆိုပြုလွှာတွင် ဖော်ပြထားသည့် လူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility-CSR) အတွက် အသားတင် အမြတ်ငွေ၏ (၂%) ကိုအသုံးပြုခြင်း အပါအဝင် ဆောင်ရွက်ပေးသွားမည့် ကတိကဝတ်များကို တိတိကျကျ လိုက်နာ အကောင်အထည်ဖော် ဆောင်ရွက်ရန်၊

(ခ) အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ **ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း (Environmental Impact Assessment-EIA)** ကို ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းအပိုဒ် (၄၉)၊ (၆၃) နှင့်အညီ ပြုစု ဆောင်ရွက်ရန်၊

(ဂ) ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းအပိုဒ် ၄၅၊ ၄၆ တို့အရ စီမံကိန်းအဆိုပြုသူသည် ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းလုပ်ငန်း **(EnvironmentalImpact Assessment-EIA)** မစတင်မီအဆိုပါလုပ်ငန်းကိုဆောင်ရွက်မည့်တတိယပုဂ္ဂိုလ် (သို့မဟုတ်) အဖွဲ့အစည်းနှင့် စပ်လျဉ်း၍ သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန၏ ဆုံးဖြတ်ချက် ရယူရန်၊

(ဃ) ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းအပိုဒ် ၄၇ မှ အပိုဒ် ၅၄ ထိ ဖော်ပြချက်အရ စီမံကိန်းအဆိုပြုသူသည် နယ်ပယ်အတိုင်းအတာ သတ်မှတ်ခြင်း အစီရင်ခံစာနှင့် ဆောင်ရွက်မည့်လုပ်ငန်းတာဝန်များကို လမ်းညွှန်ချက်များနှင့်အညီ ဆောင်ရွက်သွားမည့် လုပ်ငန်းတစ်ခုချင်းအလိုက် လေ့လာဆန်းစစ်ပြုစု၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ သယံဇာတနှင့်သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးဝန်ကြီးဌာနသို့ တင်ပြအတည်ပြုချက် ရယူရန်၊

(င) အတည်ပြုပြီးသော နယ်ပယ်အတိုင်းအတာ သတ်မှတ်ခြင်း အစီရင်ခံစာပါ အချက်များအပေါ်အခြေခံ၍ ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းအပိုဒ် (၆၃) ပါအချက်များနှင့်အညီ **ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းအစီရင်ခံစာ (EIA)** ကို ဆောင်ရွက်ပြီး သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေး ဝန်ကြီးဌာနသို့ ရေးဆွဲတင်ပြရန်၊

(စ) အထက်ပါ လေ့လာဆန်းစစ်မှု ရလဒ်များကို အခြေခံ၍ ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်မှု မဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှု အနည်းဆုံးဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့် အစီအစဉ် စွန့်ပစ်ပစ္စည်း/ စွန့်ပစ်အရည် စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြပ်ကြည့်ရှု စစ်ဆေးမည့် အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးစေရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက်သုံးစွဲမည့် ရန်ပုံငွေစသည်တို့ပါဝင်သည့် **ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan-EMP)** ကို ဆောင်ရွက်သွားမည့် လုပ်ငန်းတစ်ခုချင်းအလိုက် ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းပါ အချက်အလက်

များနှင့်အညီ ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါ အတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်။

(ဆ) ပြဋ္ဌာန်း ထုတ်ပြန်ထားပြီးဖြစ်သော ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဥပဒေ၊ နည်းဥပဒေ၊ ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း၊ အမျိုးသားပတ်ဝန်းကျင်ဆိုင်ရာ အရည်အသွေး (ထုတ်လွှတ်မှု) လမ်းညွှန်ချက်များတွင် ဖော်ပြပါရှိသည့် လိုက်နာဆောင်ရွက်ရမည့်အချက်များ၊ လုပ်ထုံးလုပ်နည်းများ၊ လမ်းညွှန်ချက်များနှင့်အညီ လိုက်နာဆောင်ရွက်ရန်နှင့် တင်ပြရမည့် အစီအစဉ်အလိုက် လိုအပ်သည့်ပုံစံများ ဖြည့်စွက်၍ တစ်ပါတည်း တင်ပြရန်၊

(ဇ) သက်ဆိုင်ရာ ပြည်နယ်အစိုးရအဖွဲ့၏ ကြီးကြပ်ကွပ်ကဲမှုဖြင့် လုပ်ငန်းဆောင်ရွက်မည့် နေရာဒေသတွင် နေထိုင်သော ဒေသခံပြည်သူများ၏ ဆန္ဒနှင့် သဘောထားများကိုလည်း ရယူဆောင်ရွက်ရန်၊

(အောင်သူကျော်)
ဒုတိယညွှန်ကြားရေးမှူး
အဖွဲ့ခေါင်းဆောင်(ပတ်ဝန်းကျင်)
ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့

**မိတ္တူကို**

ပြည်ထောင်စုဝန်ကြီးရုံး
သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့သစ်လုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ မွန်ပြည်နယ်
ရုံးလက်ခံ

(Local Personal)

| Sr | Position | Year 1 | | | Year 2 | | |
|---|---|---|---|---|---|---|---|
| | | Nos. | Salary | Yearly | Nos. | Salary | Yearly |
| | | | Kyat | Kyat | | Kyat | Kyat |
| 1 | CEO | 1 | 2,000,000 | 24,000,000 | 1 | 2,200,000 | 26,400,000 |
| 2 | General Manager | 1 | 1,500,000 | 18,000,000 | 1 | 1,650,000 | 19,800,000 |
| 3 | Finance Manager | 1 | 1,000,000 | 12,000,000 | 1 | 1,100,000 | 13,200,000 |
| 4 | Spuervisor | 28 | 500,000 | 168,000,000 | 30 | 550,000 | 198,000,000 |
| 5 | Technical | 30 | 400,000 | 144,000,000 | 36 | 440,000 | 190,080,000 |
| 6 | Engineer | 30 | 500,000 | 180,000,000 | 35 | 550,000 | 231,000,000 |
| 7 | General Worker | 400 | 250,000 | 1,200,000,000 | 400 | 275,000 | 1,320,000,000 |
| 8 | Security | 50 | 200,000 | 120,000,000 | 69 | 220,000 | 182,160,000 |
| 9 | Office staff | 50 | 300,000 | 180,000,000 | 50 | 330,000 | 198,000,000 |
| | Total | 591 | | 2,046,000,000 | 623 | | 2,378,640,000 |

(ForeignPersonal)

| Sr | Position | Year 1 | | | Year 2 | | |
|---|---|---|---|---|---|---|---|
| | | Nos. | Salary | Yearly | Nos. | Salary | Yearly |
| | | | Kyat | Kyat | | Kyat | Kyat |
| 1 | Factory Manager | 2 | 2,200,000 | 52,800,000 | 2 | 2,420,000 | 58,080,000 |
| 2 | Farm Manager | 2 | 2,200,000 | 52,800,000 | 2 | 2,420,000 | 58,080,000 |
| 3 | Spuervisor | 5 | 1,500,000 | 90,000,000 | 5 | 1,650,000 | 99,000,000 |
| 4 | Technical | 11 | 1,500,000 | 198,000,000 | 11 | 1,500,000 | 198,000,000 |
| | Total | 20 | 7,400,000 | 195,600,000 | 20 | 6,490,000 | 215,160,000 |
| | Grand Total | 611 | | 2,241,600,000 | 643 | | 2,593,800,000 |